ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ မ-၂၀၄/၂၀၁၅( ၁၅၅ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ **အာကာဦးကုမ္ပဏီလီမိတက် မှ ပဲမျိုးစုံ ကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ အာကာဦး ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်(၄)၊ မြေကွက်အမှတ် ၁၂၄ တွင် တည်ရှိသည့် ကုမ္ပဏီပိုင်မြေ ၂.၀၀၆ ဧကနှင့် ယင်းမြေပေါ်ရှိ စက်ရုံတွင် ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာ နိုင်ငံသား ရင်းနှီးမြှုပ်နှံသူ ဦးမျိုးလွင် (အဘ ဦးကျော်ဝင်း) မှ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။ အဆိုပါ အဆိုပြုလွှာအား ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၄၉/၂၀၁၄ အစည်းအဝေးသို့ တင်ပြ ခဲ့ပြီးဖြစ်ပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ (၀.၃) သန်း အပါအဝင် စုစုပေါင်း ကျပ် ၄၆၀၀ သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများအတွက် တန်ဖိုး US$ (၀.၃) သန်းကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| | | | |
|---|---|---|---|
| - ငွေသား | ကျပ် | ၂၆၇၂.၀၅ | သန်း |
| - စက်ပစ္စည်းကိရိယာများ | ကျပ် | ၉၂၄.၀၀ | သန်း(အမေရိကန်ဒေါ်လာ ၀.၃ သန်း အပါအဝင်) |
| - အဆောက်အဦ | ကျပ် | ၆၀၀.၀၀ | သန်း |
| - ရုံးသုံးပရိဘောဂ | ကျပ် | ၃.၄၅ | သန်း |
| - မြေ | ကျပ် | ၄၀၀.၅၀ | သန်း |

၃။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား ၈၅ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်းမှ ပဲအမျိုးမျိုးကြိတ်ခွဲသန့်စင်ပြီး ပြည်တွင်း၌ ၂၅% ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၇၅% တင်ပို့မည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | Grade - 1 | | Grade - 2 | | By Product | |
|---|---|---|---|---|---|---|---|
| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (mt) | ရောင်းဈေးနှုန်း (US $) | အရေအတွက် (mt) | ရောင်းဈေးနှုန်း (ကျပ်) | အရေအတွက် (mt) | ရောင်းဈေးနှုန်း (ကျပ်) |
| (က) | Black Matpe | 4500 | 1196 | 420 | 717,600 | 780 | 156,000 |
| (ခ) | Green Mung Bean | 4500 | 1560 | 420 | 936,000 | 780 | 156,000 |
| (ဂ) | Toor Whole | 4200 | 1040 | 420 | 624,000 | 1080 | 156,000 |
| (ဃ) | Black Eye Bean | 2125 | 936 | 125 | 561,600 | 200 | 156,000 |
| (င) | Red Kidney Bean | 1900 | 1144 | - | - | 90 | 156,000 |
| (စ) | Chana Dhal | 750 | 780 | 70 | 468,000 | 130 | 156,000 |
| (ဆ) | Lab Lab Bean | 400 | 1144 | 35 | 686,400 | 40 | 156,000 |

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၂၃,၁၀၂.၈၇ သန်း

(ခ) အသုံးစရိတ် - ကျပ် ၂၂၁၈၆.၅၆ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၉၁၆.၃၁ သန်း

၆။ နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ဝင်ငွေခွန် (၂၅%)ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ကျပ် ၃၀၅.၄၄ သန်း ဖြစ်ပါသည်။

၇။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၁) ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် မြို့ပြ စီမံကိန်းကို ထိခိုက်မှု မရှိကြောင်း၊ စက်ရုံလည်ပတ်ချိန်တွင် ဝန်ထမ်း (၁၀၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးမှုအတွက် အထောက်အကူဖြစ်စေ ပါ ကြောင်း၊ အဆိုပြု လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း နှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်း ဆောင်ရွက်ရန်၊ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင် အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထား ပြန်ကြားထားပါ သည်။

**[ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန ၏သဘောထားမှတ်ချက် အရ ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကိုရေးဆွဲရန်အတွက် Green Myanmar Environmental Services Co., Ltd. သို့လုပ်ငန်းအပ်နှံထားပြီး ၂၀၁၅ခုနှစ် မတ်လ နောက်ဆုံးပတ်တွင် ပေးပို့မည် ဖြစ်ကြောင်း တင်ပြထား ပါသည်။]**

နောက်ဆက်တွဲ-ခ

(ဂ) **စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန** မှကုမ္ပဏီက ဆောင်ရွက်မည့် ပဲမျိုးစုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် သန့်စင်ခြင်း လုပ်ငန်းသည် မြန်မာနိုင်ငံတွင် လိုအပ်ချက်တစ်ခုဖြစ်သည့် စိုက်ပျိုးရေးထုတ်ကုန်များ အရည်အသွေးမီ တန်ဖိုးမြင့် ဖြစ်စေရေးနှင့် နိုင်ငံခြားဝင်ငွေ ရရှိရေးအတွက် အထောက်အကူ ကောင်းများ ရရှိစေမည့် လုပ်ငန်းဖြစ်သည် အပြင်၊ ဒေသခံများအလုပ်အကိုင် အခွင့်အလမ်းများရရှိစေခြင်း၊ ပဲမျိုးစုံ Value-Added ထုတ်ကုန်လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်း စသည့် အကျိုးကျေးဇူးများ ရရှိနိုင်သည့် လုပ်ငန်း ဖြစ်သောကြောင့် နိုင်ငံသား လုပ်ငန်းရှင်များ ဖွံ့ဖြိုးတိုးတက်လာစေရန် အားပေး ချီးမြှင့်ပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်ညီညွတ်ပါက ခွင့်ပြု ပေးသင့်ကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် ၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန်၊ ရင်းနှီး မြှုပ်နှံမှု တိုးချဲ့ဆောင်ရွက်မည်ဖြစ်သဖြင့် လက်ရှိစက်ရုံလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံ မှုဆိုင်ရာ အချက်အလက်များကို စိစစ်ဆောင်ရွက်ရန်၊ နိုင်ငံတကာ အဆင့်မီ ပဲမျိုးစုံ ကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်သဖြင့် လယ်ယာစိုက်ပျိုး ရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ညွှန်ကြားချက် စည်းမျဉ်း စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရန်၊ စသည်တို့ လိုအပ်ပါကြောင်းနှင့် အရည်အသွေး စစ်ဆေးရေးဌာန အတွက် ဝန်ထမ်း (၂) ဦး ခန့်ထားရန် ဖော်ပြထား သော်လည်း စက်ပစ္စည်းများ စာရင်းတွင် အရည်အသွေး စမ်းသပ်မှုဆိုင်ရာ ပစ္စည်းများဖော်ပြထားမှု မရှိပါ ကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဃ**

၉။ ငွေကြေး အထောက်အထားအဖြစ် မန်နေဂျင်းဒါရိုက်တာ ဦးမျိုးလွင် အမည်ဖြင့် အာရှ စိမ်းလန်း ဖွံ့ဖြိုးရေးဘဏ်တွင်၂၀၁၄ခုနှစ် အောက်တိုဘာလ ၁၆ ရက် ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် (၁,၈၂၅.၃၀၀) သန်း တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့်

စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ လုပ်ငန်း သဘောသဘာဝ ရှင်းလင်းချက်၊ မီးဘေးကာကွယ်ရေး စီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်၊ လုပ်ငန်းခွင် အန္တရာယ်ကင်းရှင်းရေးဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်များကို တင်ပြထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၂။ လျှပ်စစ်ဓါတ်အား သုံးစွဲမှုနှင့်စပ်လျဥ်း၍ မဟာဓါတ်အားလိုင်းမှ ရယူ ဆောင်ရွက်သွားမည်ဖြစ်ပြီး မရရှိသည့် အချိန်တွင် ကိုယ်ပိုင် မီးစက် (Generator – 315 KVA) ၂ လုံးဖြင့် အသုံးပြုဆောင်ရွက်သွား မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၄။ **စိစစ်တင်ပြချက်**

(က) အဆောက်အဦဓါတ်ပုံများနှင့် စက်ရုံအတွင်း တပ်ဆင်ထားသည့် စက်ပစ္စည်း ဓါတ်ပုံများ ဖော်ပြထားပါသည်။

(ခ) ကုမ္ပဏီမှဝယ်ယူပြီးစက်ပစ္စည်းများ၏သွင်းကုန်ကြေငြာလွှာများအားတင်ပြထားပါသည်။

(ဂ) ၂၀၁၄ခုနှစ် ဒီဇင်ဘာလ ၁၅ရက်နေ့တွင် ကျင်းပခဲ့သော (၄၉/၂၀၁၄)ကြိမ်မြောက် အဆိုပြုချက်စိစစ်ရေး အဖွဲ့၏ ဆုံးဖြတ်ချက်အရ ၂၀၁၄ခုနှစ် ဒီဇင်ဘာလ ၃၁ရက်နေ့တွင် စက်ရုံအခြေအနေအား ကွင်းဆင်း စစ်ဆေးခဲ့ပြီးဖြစ်ပါသည်။

(ဃ) ကုမ္ပဏီမှ မူလတပ်ဆင်ပြီး စက်ပစ္စည်းများအတွက် စက်မှုလုပ်ငန်းလိုင်စင် လျှောက်ထားကြောင်း အထောက်အထား တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ အာကာဦးကုမ္ပဏီလီမိတက် မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်(၄) မြေကွက်အမှတ် (၁၂၄) တွင် တည်ရှိသည့် ကုမ္ပဏီပိုင်မြေ (၂.၀၀၆) ဧက နှင့် ယင်းမြေ ပေါ်ရှိ စက်ရုံတွင် ပဲမျိုးစုံကြိတ်ခွဲခြင်း နှင့် သန့်စင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ



H:\MIC (tsez)\Arkar Oo Co.Ltd\MIC\Arkar Oo ( MIC memo).doc




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၂) / စိုက်မွေး

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီ လ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆. ၁၂. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၀၄ / ၂၀၁၄ (၀၂၄၇)

၁။ ARKAR OO COMPANY LIMITED သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၄)၊ ဝက်မစွတ်ဝန်ထောက်လမ်း၊ မြေကွက်အမှတ်(၁၂၄)တွင် တည်ရှိသည့် ကုမ္ပဏီပိုင်မြေ (၂. ၀၀၆)ဧကနှင့် ယင်းမြေပေါ်ရှိစက်ရုံတွင် နိုင်ငံတကာအဆင့်မီ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၀၀)ဦးခန့် အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်(၄)၊ ဝက်မစွတ်ဝန်ထောက်လမ်း၊ မြေကွက်အမှတ်(၁၂၄)၊ ဧရိယာ(၂. ၀၀၆)ဧကရှိ ကိုယ်ပိုင်မြေပေါ်တွင် လုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/2.,(5)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၈. ၁. ၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၈၉)အရ ARKAR OO COMPANY LIMITED ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးတိုင်းရင်းသားရေးရာဝန်ကြီး(ရခိုင်)
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ARKAR OO COMPANY LIMITED
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/2.,(6)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

VDT-0148
9.1.15

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၁၈၄ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဇန်နဝါရီလ ၅ ရက်

ﾘလ 9/12/1 သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **<u>သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ</u>**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၁၂-၂၀၁၄ရက်စွဲပါစာအမှတ်၊ ရက-၂/မ-၂၀၄/၂၀၁၄(၀၂၄၈)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ARKAR OO COMPANY LIMITED သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၄)၊ ဝက်မစွတ်ဝန်ထောက်လမ်း၊ မြေကွက်အမှတ်(၁၂၄)တွင် တည်ရှိသည့် ကုမ္ပဏီပိုင်မြေ (၂.၀၀၆) ဧကနှင့် ယင်းမြေပေါ်ရှိ စက်ရုံတွင် နိုင်ငံတကာအဆင့်မီ ပဲမျိုးစုံ ကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် တည်ဆောက်မှုကာလမှာ (၁)နှစ်ကြာမြင့်မည်ဖြစ်ပြီး၊ ပြုပြင်တည်ဆောက်ရေးလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး (၃၀)ရက်အတွင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ပဲမျိုးစုံကြိတ်ခွဲသန့်စင်ခြင်းလုပ်ငန်းဆောင်ရွက်ကာ ပြည်တွင်းပြည်ပသို့ ရောင်းချသွားမည်ဖြစ်ကြောင်း၊ အဆိုပါလုပ်ငန်းဆောင်ရွက်ရာတွင် ပြည်တွင်းမှ အမှုထမ်းအင်အား(၈၅)ဦးခန့်ထားနိုင်မည်ဟု ခန့်မှန်းပါကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများအနေဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ စံချိန်စံညွှန်းများအားလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်အပေါ်ထိခိုက်မှု မရှိစေရန်လည်း အစီအစဉ် ချမှတ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်ကာကွယ်ရေး အစီအမံများလည်း ဆောင်ရွက်ထားကြောင်း၊ လူမှုရေးဆိုင်ရာ တာဝန်ခံမှုနှင့်သက်ဆိုင်သည့် လုပ်ငန်းများအတွက်ရရှိလာသော အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပဲကြိတ်ခွဲခြင်းကြောင့် ထွက်ရှိလာမည့် အမှုန်အမွှားများ၊ စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထုတို့အား ညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ပြီး လုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ARKAR OO COMPANY LIMITED သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၄) ၊ ဝက်မစွတ်ဝန်ထောက်လမ်း ၊ မြေကွက်အမှတ်(၁၂၄)တွင် တည်ရှိသည့် ကုမ္ပဏီပိုင်မြေ (၂.၀၀၆)ဧကနှင့် ယင်းမြေပေါ်ရှိ စက်ရုံတွင် နိုင်ငံတကာအဆင့်မီ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု

ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း ၊ လုပ်ငန်းလည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့ အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက် ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination - IEE ) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊

(ဂ) အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်း များအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြ ရန်နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ စက - ၁၄ / ၁ (၃) - ၃၀ / ၂၀၁၅ ( ၃၁ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်

သို့
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **ARKAR OO COMPANY LIMITED မှ ပဲမျိုးစုံ ကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်း အသင်းဖွဲ့စည်းမှတ်ပုံတင်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁၂-၂၀၁၄ ရက်စွဲပါစာ အမှတ်၊ ရက-၂/မ-၂၀၄/၂၀၁၄(၀၂၅၆)

ARKAR OO COMPANY LIMITED သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန် (၄) ၊ ဝက်မစွတ်ဝန်ထောက်လမ်း၊ မြေကွက်အမှတ် (၁၂၄) တွင် တည်ရှိသည့် ကုမ္ပဏီပိုင်မြေ (၂.၀၀၆) ဧကနှင့် ယင်းမြေပေါ်ရှိ စက်ရုံတွင် နိုင်ငံတကာ အဆင့်မီ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ကုမ္ပဏီမှဆောင်ရွက်မည့် ပဲမျိုးစုံ ကြိတ်ခွဲထုတ်လုပ်ခြင်းနှင့်သန့်စင်ခြင်းလုပ်ငန်းသည် မြန်မာနိုင်ငံတွင်လိုအပ်ချက်တစ်ခုဖြစ်သည့် စိုက်ပျိုးရေးထုတ်ကုန်များ အရည်အသွေးမီ တန်ဘိုးမြင့်ဖြစ်စေရေးနှင့် နိုင်ငံခြားဝင်ငွေ ရရှိရေးအတွက် အထောက်အကူကောင်းများ ရရှိစေမည့် လုပ်ငန်းဖြစ်သည့်အပြင်၊ ဒေသခံများ အလုပ်အကိုင် အခွင့်အလမ်းရရှိစေခြင်း၊ ပဲမျိုးစုံ Value-Added ထုတ်ကုန်လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်း စသည့်အကျိုးကျေးဇူးများရရှိနိုင်သည့် လုပ်ငန်းဖြစ်သောကြောင့် နိုင်ငံသားလုပ်ငန်းရှင်များ ဖွံ့ဖြိုးတိုးတက်လာစေရန် အားပေးချီးမြှင့်ပြီး ၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ညီညွတ်ပါက ခွင့်ပြုပေးသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( )
( ဦးဟန်၊ ရုံးအဖွဲ့မှူး )

**မိတ္တူကို -**

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန

C:\Documents and Settings\mo1hm\My Documents\J 1.docx



JPT-0161
8.1.2015

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ (၂)၂၀၁၄-၂၀၁၅(၄၄၄၆)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်

ပ၊ ၆ / ၉/၁ သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၁၂.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ-၂၀၄/ ၂၀၁၄ (၀၂၅၇)

၁။ Arkar Oo Co.,Ltd. သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၄)၊ ဝက်မစွတ်ဝန်ထောက်လမ်း၊ မြေကွက်အမှတ်(၁၂၄)တွင် နိုင်ငံတကာအဆင့်မီ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး နိုင်ငံတကာအဆင့်မီ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချောထွက်ရှိမှု ကိုက်ညီမှု ရှိပါသည်။

(စ) ထုတ်လုပ်မှုအတွက် စက်ပစ္စည်းစာရင်း ကိုက်ညီမှု ရှိပါသည်။

(ဆ) ရင်းနှီးမြှုပ်နှံမှု တိုးချဲ့ဆောင်ရွက်မည်ဖြစ်သဖြင့် လက်ရှိစက်ရုံလုပ်ငန်း၏ရင်းနှီး မြှုပ်နှံမှုဆိုင်ရာအချက်အလက်များကို စိစစ်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဇ) နိုင်ငံတကာအဆင့်မီ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့်သန့်စင်ခြင်းလုပ်ငန်း ဆောင်ရွက် မည်ဖြစ်သဖြင့်လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ ညွှန်ကြားချက် စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဈ) အရည်အသွေးစစ်ဆေးရေးဌာနအတွက် ဝန်ထမ်း(၂)ဦးခန့်ထားရန် ဖော်ပြထား သော်လည်း စက်ပစ္စည်းများစာရင်းတွင် အရည်အသွေးစမ်းသပ်မှုဆိုင်ရာပစ္စည်း များ ဖော်ပြထားမှုမရှိပါ။

၃။ သို့ပါ၍ Arkar Oo Co.,Ltd. မှ နိုင်ငံတကာအဆင့်မီ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင် ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံ သားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်း များနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂.၁.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

**ကုမ္ပဏီအမည် - အာကာဦးကုမ္ပဏီလီမိတက်**

**လုပ်ငန်း - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မီ ပဲမျိုးစုံ ကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၅-၁၂-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်း စီစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၅-၁၂-၂၀၁၄ | ၁၇-၁၂-၂၀၁၄ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (ပထမအကြိမ်) | ၂၂-၁၂-၂၀၁၄ | ၁၂-၁-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၂-၁၂-၂၀၁၄ | ၇-၁-၂၀၁၅ | |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ပထမအကြိမ်) | ၂၂-၁၂-၂၀၁၄ | ၈-၁-၂၀၁၅ | |
| | (င) စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန | ၂၂-၁၂-၂၀၁၄ | ၁၄-၁-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း | ၁၅-၁၂-၂၀၁၄ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၆-၁၂-၂၀၁၄ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၂၆-၁၂-၂၀၁၄ | | |
| ၆ | PAT ဆုံးဖြတ်ချက်အရ ကုမ္ပဏီ လုပ်ငန်း တည်ရှိရာ လှိုင်သာယာ စက်မှုဇုန်(၄)သို့ သွားရောက်စစ်ဆေးခြင်း | ၃၁-၁၂-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် (၈) စုံ ပေးပို့ခြင်း<br>(၃ /၂၀၁၅) ကြိမ်မြောက် MIC အစည်းအဝေး သို့ တင်ပြခြင်း | ၂-၂-၂၀၁၅<br>၂၇-၂-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၈၄ ရက်** | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | **အာကာဦးကုမ္ပဏီလီမိတက်** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာနှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်းလုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ အမှတ် (၁၂၄)၊ ဝက်မစွတ်ဝန်ထောက်လမ်း၊ လှိုင်သာယာစက်မှုဇုန် (၄)၊ လှိုင်သာယာ မြို့နယ် ရှိ (၂.၀၀၆) ဧက ရှိသော ကုမ္ပဏီပိုင်မြေ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၄၆၀၀ သန်း |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၂၅% |
| | | ပြည်ပ ၇၅% ရောင်းချမည်ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - | ၅၀ နှစ်၊ သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် |
| အရင်းကြေကာလ | - | ၄ နှစ် |
| IRR | - | ၂၀.၆၉ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၆၈၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၃၀.၀၀ သန်း | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၄၀၃.၃၄ သန်း | ကျပ် ၃၀၅၄.၃၇ သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၃၆၈.၆၄ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၇ | CSR (၂%) | | ကျပ် ၂၀၃.၈၉ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း (၈၅)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၁၄၃၅.၀၂ သန်း | ကျပ် ၃၆၂၈.၀၇သန်း |
| | Cost & Benefit | ၁ း ၃ | |

H:\MIC (tsez)\Arkar Oo Co.Ltd\MIC\Arkar Oo (Cost & Benefit).docx 5-2-2015.docx

အကြောင်းအရာ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ပဲမျိုးစုံ ကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ မကထပြုသူ | - ဦးမျိုးလွင် |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ပဲမျိုးစုံ ကြိတ်ခွဲခြင်း နှင့် သန့်စင် ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်အပိုင်း (၄)၊ မြေကွက်အမှတ် (၁၂၄) |
| | မြေပိုင်ရှင် | - အာကာဦးကုမ္ပဏီလီမိတက် |
| | မြေအကျယ်အဝန်း | - (၂.၀၀၆) ဧက |
| | လုပ်ငန်းသက်တမ်း | - ခွင့်ပြုမိန့်ရရှိသည့်နေ့မှ အနည်းဆုံး (၁၀)နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄၆၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၃ သန်း အပါအဝင်)<br>- ငွေသား ကျပ် ၂၆၇၂.၀၅ သန်း<br>- စက်ပစ္စည်း ကိရိယာများ ကျပ် ၉၂၄.၀၀ သန်း(အမေရိကန် ဒေါ်လာ၀.၃သန်းအပါအဝင်)<br>- အဆောက်အဦ ကျပ် ၆၀၀.၀၀ သန်း<br>- ရုံးသုံးပရိဘောဂ ကျပ် ၃.၄၅ သန်း<br>- မြေ ကျပ် ၄၀၀.၅၀ သန်း |
| ၆။ | ဝန်ထမ်းအင်အား | **- ၈၅ ဦး** |
| | ပြည်တွင်း | - ၈၅ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ မှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ |
| | ပြည်ပ | - မရှိပါ။ |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၂၅% နှင့် ပြည်ပ ၇၅% |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - ကျပ် ၂၃,၁၀၂.၈၇ သန်း |
| | အသုံးစရိတ် | - ကျပ် ၂၂၁၈၆.၅၆ သန်း |
| | အသားတင်အမြတ် | - ကျပ် ၉၁၆.၃၁ သန်း |

၉။ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ်)

| | |
|---|---|
| ဝင်ငွေခွန် | - ကျပ် ၃၀၅.၄၄ သန်း |
| အရင်းကြေကာလ | - ၄ နှစ် |
| အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၀ % |

၁၀။ လျှပ်စစ်ဓါတ်အားလိုအပ်ချက် - ၃၁၂၀၀၀ kWh

၁၁။ နှစ်စဉ်ထုတ်လုပ်မှု (ဆဋ္ဌမမြောက်နှစ်)

| စဉ် | ပစ္စည်း အမျိုးအစား | Grade - 1 အရေအတွက် (mt) | Grade - 1 ရောင်းဈေးနှုန်း (US $) | Grade - 2 အရေအတွက် (mt)) | Grade - 2 ရောင်းဈေးနှုန်း (ကျပ်) | By Product အရေအတွက် (mt) | By Product ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|---|---|---|
| (က) | Black Matpe | 4500 | 1196 | 420 | 717,600 | 780 | 156,000 |
| (ခ) | Green Mung Bean | 4500 | 1560 | 420 | 936,000 | 780 | 156,000 |
| (ဂ) | Toor Whole | 4200 | 1040 | 420 | 624,000 | 1080 | 156,000 |
| (ဃ) | Black Eye Bean | 2125 | 936 | 125 | 561,600 | 200 | 156,000 |
| (င) | Red Kidney Bean | 1900 | 1144 | - | - | 90 | 156,000 |
| (စ) | Chana Dhal | 750 | 780 | 70 | 468,000 | 130 | 156,000 |
| (ဆ) | Lab Lab Bean | 400 | 1144 | 35 | 686,400 | 40 | 156,000 |

၁၂။ **စိစစ်တွေ့ရှိချက်**

- အဆောက်အဦ ဓါတ်ပုံများ နှင့် စက်ရုံအတွင်း တပ်ဆင်ထားသည့် စက်ပစ္စည်း ဓါတ်ပုံများ ဖော်ပြ ထားပါသည်။
- ကုမ္ပဏီမှ ဝယ်ယူပြီးစက်ပစ္စည်းများ၏ သွင်းကုန်ကြေငြာလွှာ များ တင်ပြထားပါသည်။
- ၂၀၁၄ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် ကျင်းပခဲ့သော (၄၉/၂၀၁၄) ကြိမ်မြောက် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အရ စက်ရုံ အခြေအနေအား ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၃၁ ရက်နေ့တွင် ကွင်းဆင်းစစ်ဆေး ခဲ့ပါသည်။
- ကုမ္ပဏီမှ မူလတပ်ဆင်ပြီး စက်ပစ္စည်းများအတွက် စက်မှုလုပ်ငန်းလိုင်စင် လျှောက်ထားကြောင်း အထောက်အထား တင်ပြထားပါသည်။